# ကန့်သတ်

ကုမ္ပဏီအမည် - အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED)

လုပ်ငန်း - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Normal System နှင့် Contract Processing စနစ်(၂)မျိုး ဖြင့် ရေချိုရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃၀-၁၂-၂၀၁၆ | | |
| ၂ | PAT တင်ပြခြင်း (၂/၂၀၁၇) | ၁၀-၁-၂၀၁၇ | | |
| ၃ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့အကြောင်းကြားခြင်း | ၁၁-၁-၂၀၁၇ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၁-၁-၂၀၁၇ | | |
| ၅ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၁၇-၁-၂၀၁၇ | | |
| ၆ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၁၃-၁-၂၀၁၇ | ၃၀-၁-၂၀၁၇ | |
| | (ခ) စက်မှုဝန်ကြီးဌာန | ၁၈-၁-၂၀၁၇ | ၂-၂-၂၀၁၇ | |
| | (ဂ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၈-၁-၂၀၁၇ | ၈-၂-၂၀၁၇ | |
| | (ဃ) စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၁၈-၁-၂၀၁၇ | ၁၄-၂-၂၀၁၇ | |
| ၇ | ကုမ္ပဏီမှ အဆိုပြုချက် အစုံ(၁၀) ပေးပို့ခြင်း | ၃-၃-၂၀၁၇ | | |
| ၈ | ကော်မရှင်အစည်းအဝေးသို့ တင်ပြရန် ပြုစုခြင်း | ၁၀-၃-၂၀၁၇ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၆၈ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရော့ဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | Normal System နှင့် Contract Processing System စနစ်(၂)မျိုးဖြင့် ရေချို၊ ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေကွက်အမှတ်-၂၀၃၊ ၂၀၆ |
| စုစုပေါင်းမတည်ငွေရင်း | ကျပ် ၃,၄၅၃.၁၆၃ သန်း(အမေရိကန်ဒေါ်လာ ၁.၇၄၁ သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | ၁၀၀% ပြည်ပ တင်ပို့ |
| အရင်းကြေကာလ | ၅ နှစ် ၅ လ |
| IRR | ၂၁.၁၇ % |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၈၇.၆၃၃ | |
| ၄ | ဝင်ငွေခွန် | ၆၅၀.၈၄၄ | ၁၁၇၉.၄၈ |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၁၆၈၃.၅၆ |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း လေးဆယ့် ရှစ်သိန်း ထက်ကျော် ပါက အခွန်ပေးရမည့် ဝန်ထမ်း(၄) ဦး |
| ၇ | CSR (၂%) | | ၁၀၇.၅၈၂ |
| ၈ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၂၅၅ ဦး ပြည်တွင်းလုပ်သား (၂၅၅) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ |
| | | ၇၄၀.၆၃၇ | ၂၉၇၁.၂၈၇ |
| | **Cost & Benefit** | ၁ : ၄ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) မှ Normal System နှင့် Contract Processing စနစ်(၂)မျိုးဖြင့် ရေချိုရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက်<br>L & Z MARINE PRODUCTS LIMITED<br>- ဦးခင်မောင်ထွေး |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - Normal System နှင့် Contract Processing စနစ်(၂)မျိုးဖြင့် ရေချိုရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေကွက်အမှတ်-၂၀၃၊ ၂၀၆ |
| | စုစုပေါင်းမြေအကျယ်အဝန်း | စုစုပေါင်းမြေဧရိယာ ၂.၆၃၁ ဧက၊ (၁၀,၆၄၇.၂၉ စတုရန်းမီတာ) |
| ၃။ | မြေပိုင်ရှင်(၁) | - ဒေါ်မြင့်မြင့်စော |
| | မြေအကျယ်အဝန်း | - မြေကွက်အမှတ်-၂၀၃ ၏ မြေဧရိယာ ၁.၂၉၅ ဧက၊ (၅,၂၄၀.၆၈ စတုရန်းမီတာ) |
| | နှစ်စဉ် မြေငှားရမ်းခ | - မြေဧရိယာ ၁.၂၉၅ ဧက အတွက် ၁နှစ်လျှင် ကျပ် ၁၅.၇၂ သန်း (တစ်နှစ် တစ်စတုရန်းမီတာလျှင် မြေငှားရမ်းခနှုန်း ကျပ် ၃,၀၀၀ နှုန်း) |
| | မြေပိုင်ရှင်(၂) | - ဦးမြင့်ကျော်ဦး |
| | မြေအကျယ်အဝန်း | - မြေကွက်အမှတ်-၂၀၆ ၏ မြေဧရိယာ ၁. ၃၃၆ ဧက၊ (၅,၄၀၆.၆၀ စတုရန်းမီတာ) |
| | နှစ်စဉ် မြေငှားရမ်းခ | - မြေဧရိယာ ၁.၃၃၆ ဧက အတွက် ၁နှစ်လျှင် ကျပ် ၃၁.၉၄ သန်း (တစ်နှစ် တစ်စတုရန်းမီတာလျှင် မြေငှားရမ်းခနှုန်း ကျပ် ၃,၀၀ နှုန်း) |

၄။ တည်ဆောက်ရေးကာလ
- ၂ နှစ်

၅။ စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား
- ကျပ် ၃,၄၅၃.၁၆၃ သန်း(အမေရိကန်ဒေါ်လာ ၁.၇၄၁ သန်း အပါအဝင်)

| | ပြည်ပ (US$/သန်း) | ပြည်တွင်း (ကျပ်/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေပမာဏ | | ၅.၀၀၀ | ၅.၀၀၀ |
| စက်ပစ္စည်း(ပြည်ပဝယ်) | ၁.၄၀၂ | | ၁,၇၅၂.၆၆၃ |
| စက်အပိုပစ္စည်း(ပြည်ပဝယ်) | ၀.၃၃၉ | | ၄၂၃.၇၅၀ |
| အဆောက်အဦးတန်ဘိုး (ပြည်တွင်းဝယ်) | | ၁,၁၀၆.၂၅၀ | ၁,၁၀၆.၂၅၀ |
| ပရိဘောဂပစ္စည်း (ပြည်တွင်းဝယ်) | | ၉၀.၅၀၀ | ၉၀.၅၀၀ |
| အခြား | | ၇၅.၀၀၀ | ၇၅.၀၀၀ |
| **စုစုပေါင်း** | **၁.၇၄၁** | **၁,၂၇၆.၇၅** | **၃,၄၅၃.၁၆၃** |

၆။ ဝန်ထမ်းအင်အား
ပြည်တွင်း
- **၂၅၅ ဦး**
- ၂၅၅ ဦး( ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၅၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာ ၈၀၀,၀၀၀ ကျပ်)

၇။ ရောင်းချမည့်စနစ်
နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (၁၀၀% ပြည်ပတင်ပို့)
- ၁၀၀% ပြည်ပတင်ပို့

**(က) Contract Processing စနစ်**

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | လက်ခဈေးနှုန်း (US$/MT) |
|---|---|---|---|
| (၁) | ငါး(Gutted) | ၉၆၀ | ၅၀၀ |
| (၂) | ငါး(Fillet) | ၂၄၀ | ၆၅၀ |
| (၃) | ပုစွန်(HLSO) | ၇၈၀ | ၅၀၀ |

**(ခ) Normal စနစ်**

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း(US$/MT) |
|---|---|---|---|
| (၁) | ရေချိုငါး(Gutted) | ၆၅၃ | ၁,၅၀၀ |
| (၂) | ရေချိုငါး(Fillet) | ၁၅၈ | ၃,၅၀၀ |
| (၃) | ရေငန်ငါး(Gutted) | ၆၀၉ | ၁,၃၂၅ |
| (၄) | ရေငန်ငါး(Fillet) | ၁၈၉ | ၃,၁၅၀ |
| (၅) | ရေချိုပုစွန်(HLSO) | ၄၆၈ | ၂,၆၇၅ |
| (၆) | ရေငန်ပုစွန်(HLSO) | ၄၆၈ | ၂,၅၇၅ |

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ဝင်ငွေ(၆ နှစ်မြောက်)<br>ကုမ္ပဏီ၏အသုံးစရိတ်<br>ကုမ္ပဏီ၏အသားတင်အမြတ်<br>(၆နှစ်မြောက်) | - ကျပ် ၈,၀၁၉.၀၉၄ သန်း<br>- ကျပ် ၇,၃၁၁.၄၀၃ သန်း<br>- ကျပ် ၇၀၇.၆၉၁ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုး<br>အမြတ် ပြန်ပေါ်နှုန်း(IRR) | <br>- ကျပ် ၂၃၅.၈၉၇ သန်း<br>- ၅ နှစ် ၅ လ<br>- ၂၀.၁၇ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု<br>(နှစ်စဉ်) | - ၁,၅၆၀,၀၀၀ kWh |
| ၁၁။ | အခြားတင်ပြချက် | - အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) ၏ MOA, AOA (မူကြမ်း) အား တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများ တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဒေါ်မြင့်မြင့်စောနှင့် မြေငှားသူ အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) တို့ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ မြေပိုင်ရှင် ဦးမြင့်ကျော်ဦးနှင့် မြေငှားသူ အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) များအား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရှိ ဧရာဝတီဘဏ်တွင် ဒါရိုက်တာ ဦးခင်မောင်ထွေး အမည်ဖြင့် ၃၀-၁၂-၂၀၁၆ရက်နေ့တွင် ကျပ် ၁၀,၁၉၈,၅၅၉.၆၃ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်း စောင့်ရှောက်မည် ဖြစ်ကြောင်း စီမံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်းဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်၊ လုပ်ငန်းသဘာဝရှင်းလင်းချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၂။ | စိစစ်တင်ပြချက် | - မြေပိုင်ရှင် ဦးလှလေးအမည်ဖြင့် ရရှိထားသော မြေငှားစာချုပ်များနှင့်မြေဂရန်များကို တင်ပြထားပါသည်။<br>- မြေပိုင်ရှင်ဦးလှလေးမှ မြေကွက်အမှတ်-၂၀၆အား ဦးမြင့်ကျော်ဦးသို့ အမည်ပေါက်လွှဲပြောင်းခြင်း မှတ်တမ်းနှင့် မြေကွက်အမှတ်-၂၀၃ အား ဒေါ်မြင့်မြင့်စောသို့ လွှဲပြောင်းထားသော အမည်ပေါက် လွှဲပြောင်းခြင်းမှတ်တမ်းများ ပူးတွဲ ဖော်ပြထားပါသည်။<br>- မြန်မာနိုင်ငံတွင် ဝယ်ယူ၍မရနိုင်သည့် ငါးများကိုဗီယက်နမ်နိုင်ငံ၊ ယိုးဒယားနိုင်ငံတို့မှ ကုန်ကြမ်းတင်သွင်းမည် ဖြစ်ကြောင်း၊ Export အနေဖြင့် UK၊ UAE နှင့် ဆော်ဒီအာရေးဗျနိုင်ငံများသို့ တင်ပို့မည်ဖြစ်ပါသည်။<br>- Exchange Rate အနေဖြင့် ၁ US$= ၁၂၅၀ ကျပ်ဖြင့် တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ မ-၂၄၉/၂၀၁၇(၂၂၆ )

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် မတ်လ ၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) မှ Normal System နှင့် Contract Processing System စနစ်(၂)မျိုးဖြင့် ရေချို၊ ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေကွက်အမှတ်-၂၀၃၊ ၂၀၆ ရှိ စုစုပေါင်းမြေဧရိယာ ၂.၆၃၁ ဧက၊ (၁၀,၆၄၇.၂၉ စတုရန်းမီတာ) ကို ငှားရမ်းကာ Normal System နှင့် Contract Processing System စနစ်(၂)မျိုးဖြင့် ရေချို၊ ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဒေါ်မြင့်မြင့်စော နှင့် မြေငှားသူ အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ မြေပိုင်ရှင် ဦးမြင့်ကျော်ဦးနှင့် မြေငှားသူ အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) များအား တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ စုစုပေါင်းမြေဧရိယာ ၂.၆၃၁ ဧက၊ (၁၀,၆၄၇.၂၉ စတုရန်းမီတာ) ဖြစ်ပြီး မြေပိုင်ရှင် ဒေါ်မြင့်မြင့်စော ၏ မြေဧရိယာ ၁.၂၉၅ ဧက အတွက် တစ်နှစ် တစ်စတုရန်းမီတာလျှင် မြေငှားရမ်းခနှုန်း ကျပ် ၃,၀၀၀ နှုန်း

ဖြင့် တစ်နှစ်လျှင် မြေငှားရမ်းခ ကျပ် ၁၅.၇၂ သန်း ဖြစ်ပါသည်။ မြေပိုင်ရှင် ဦးမြင့်ကျော်ဦး ၏ မြေဧရိယာ ၁. ၃၃၆ ဧက အတွက် တစ်နှစ် တစ်စတုရန်းမီတာလျှင် မြေငှားရမ်းခနှုန်း ကျပ် ၃,၀၀၀ ဖြင့် တစ်နှစ်လျှင် မြေငှားရမ်းခ ကျပ် ၁၁,၉၄၁ သန်း ဖြစ်ပါသည်။

၄။ တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ ကျပ် ၃,၄၅၃.၁၆၃ သန်း(အမေရိကန်ဒေါ်လာ ၁.၇၄၁ သန်း အပါအဝင်) ဖြစ်၍ အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ပြည်ပ (US$/သန်း) | ပြည်တွင်း (ကျပ်/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | | ၅.၀၀၀ | ၅.၀၀၀ |
| (ခ) | စက်ပစ္စည်း(ပြည်ပဝယ်) | ၁.၄၀၂ | | ၁,၇၅၂.၆၆၃ |
| (ဂ) | စက်အပိုပစ္စည်း(ပြည်ပဝယ်) | ၀.၃၃၉ | | ၄၂၃.၇၅၀ |
| (ဃ) | အဆောက်အဦးတန်ဖိုး (ပြည်တွင်းဝယ်) | | ၁,၁၀၆.၂၅၀ | ၁,၁၀၆.၂၅၀ |
| (င) | ပရိဘောဂပစ္စည်း (ပြည်တွင်းဝယ်) | | ၉၀.၅၀၀ | ၉၀.၅၀၀ |
| (စ) | အခြား | | ၇၅.၀၀၀ | ၇၅.၀၀၀ |
| | **စုစုပေါင်း** | **၁.၇၄၁** | **၁,၂၇၆.၇၅** | **၃,၄၅၃.၁၆၃** |

ငွေလဲလှယ်နှုန်းအနေဖြင့် အမေရိကန် တစ်ဒေါ်လာလျှင် ကျပ် ၁၂၅၀ ဖြင့် ဖော်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် စုစုပေါင်းဝန်ထမ်းဦးရေ ၂၅၅ ဦး ခန့်ထားမည် ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၅၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာ ၈၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ပြည်ပ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

(က) Contract Processing စနစ်

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | လက်ခရျေးနှုန်း (US$/MT) |
|---|---|---|---|
| (၁) | ငါး(Gutted) | ၉၆၀ | ၅၀၀ |
| (၂) | ငါး(Fillet) | ၂၄၀ | ၆၅၀ |
| (၃) | ပုစွန်(HLSO) | ၇၈၀ | ၅၀၀ |

(ခ) Normal စနစ်

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (US$/MT) |
|---|---|---|---|
| (၁) | ရေချိုငါး(Gutted) | ၆၅၃ | ၁,၅၀၀ |
| (၂) | ရေချိုငါး(Fillet) | ၁၅၈ | ၃,၅၀၀ |
| (၃) | ရေငန်ငါး(Gutted) | ၆၀၉ | ၁,၃၂၅ |
| (၄) | ရေငန်ငါး(Fillet) | ၁၈၉ | ၃,၁၅၀ |
| (၅) | ရေချိုပုစွန်(HLSO) | ၄၆၈ | ၂,၆၇၅ |
| (၆) | ရေငန်ပုစွန်(HLSO) | ၄၆၈ | ၂,၅၇၅ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုး အမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၈,၀၁၉.၀၉၄ |
| (ခ) | အသုံးစရိတ် | ၇,၃၁၁.၄၀၃ |
| (ဂ) | အသားတင်အမြတ် | ၇၀၇.၆၉၁ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေ အနေဖြင့် ဝင်ငွေခွန်မှာ ကျပ် ၂၃၅.၈၉၇ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၅ နှစ် ၅ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၂၁.၁၇ % ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထား ပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ကန့်ကွက်ရန်မရှိပါကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ပြီး ပြန်လည်တင်ပို့ရာတွင် ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသောလုပ်ငန်း အစီအမံများအတိုင်းလိုက်နာဆောင်ရွက်မည် ဆိုပါက အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) ၏ လက်ခစားအပ်ကုန်စနစ်ဖြင့် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် လုပ်ငန်းအား ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားထား ပါသည်။

**နောက်ဆက်တွဲ-ခ**

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း ဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ အကျိုးပြုလုပ်ငန်းများ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ ၂% အား အသုံးပြုသွားရန်အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ လုပ်ငန်းများ ဆောင်ရွက်မှု ကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environment Examination-IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာ ရေးသား တင်ပြရန်လိုအပ်ပါကြောင်း၊ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ် ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်း များအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု

အစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်နှင့် စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဃ**

၁၁။ ငွေရေးကြေးရေးအထောက်အထားအဖြစ် မြန်မာနိုင်ငံရှိရောဝတီဘဏ်တွင် ဒါရိုက်တာ ဦးခင်မောင်ထွေး အမည်ဖြင့် ၃၀-၁၂-၂၀၁၆ရက်နေ့တွင် ကျပ် ၁၀,၁၉၈,၅၅၉.၆၃ ရှိကြောင်း ငွေကြေး အထောက်အထား တင်ပြထားပါသည်။

၁၂။ အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) ၏ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်းစီမံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်၊ လုပ်ငန်းသဘာဝရှင်းလင်းချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်**

(က) မြေပိုင်ရှင် ဦးလှလေးအမည်ဖြင့် ရရှိထားသော မြေငှားစာချုပ်များနှင့် မြေဂရန်များကို တင်ပြထားပါသည်။

(ခ) မြေပိုင်ရှင်ဦးလှလေးမှ မြေကွက်အမှတ်-၂၀၆ အား ဦးမြင့်ကျော်ဦး သို့ အမည်ပေါက် လွှဲပြောင်းခြင်းမှတ်တမ်းနှင့် မြေကွက်အမှတ်-၂၀၃ အား ဒေါ်မြင့်မြင့်စောသို့ လွှဲပြောင်းထားသော အမည်ပေါက် လွှဲပြောင်းခြင်းမှတ်တမ်းများ ပူးတွဲ ဖော်ပြထားပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

၁၄။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည)အရ အခွန်အကောက် ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ မြန်မာနိုင်ငံ အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED) မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေကွက်အမှတ်-၂၀၃၊ ၂၀၆ ရှိ စုစုပေါင်းမြေဧရိယာ ၂.၆၃၁ ဧက၊ (၁၀,၆၄၇.၂၉ စတုရန်းမီတာ) ကို ငှားရမ်းကာ Contract Processing နှင့် Normal System စနစ်(၂)မျိုးဖြင့် ရေချို၊ ရေငန်ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ- မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

# အယ်(လ်)အင်(န်)ဇက် မရင်း(န်)ပရောဒတ်(ထ်စ်)လီမိတက် (L & Z MARINE PRODUCTS LIMITED) ၏ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **အယ်(လ်)အင်(န်)ဇက် မရင်း(န်)ပရောဒတ်(ထ်စ်) လီမိတက် (L & Z MARINE PRODUCTS LIMITED)** | (က) ဦးခင်မောင်ထွေး ၁၂/ဗတထ(နိုင်)၀၄၅၀၉၂ ဒါရိုက်တာ | အမှတ်-၄၄၈/၄၅၀၊ သတ္တမထပ်၊ ကုန်သည်လမ်း၊ ၈-ရပ်ကွက်၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့ |
| | | (ခ) ဒေါ်သဇင်ထွေး TGI-၀၆၉၅၈၆ ဒါရိုက်တာ | အမှတ်-၄၄၈/၄၅၀၊ သတ္တမထပ်၊ ကုန်သည်လမ်း၊ ၈-ရပ်ကွက်၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့ |
| | | (ဂ) ဦးနူရ်ဖိုဇ် ၁၁/မတန(နိုင်)၀၁၃၆၈၆ ဒါရိုက်တာ | အမှတ်-၁၉၇၊ တတိယထပ်၊ ဗိုလ်တထောင်ဈေးလမ်း၊ ၂-ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့ |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁-၉၀၁၀၂၀၃၊ ၀၉-၅၁၁၃၀၂၇

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်သန့်မြတ်ဝင်း

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Normal System နှင့် Contract Processing စနစ် (၂)မျိုးဖြင့် ရေချို၊ ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -




နောက်ဆက်တွဲ-က

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈. ၁. ၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၂/ မ-၂၄၉/၂၀၁၇(၀၈၃)

၁။ အယ်(လ်)အန်(န်)ဇက် မရင်း(န်) ပရောဒက်(ထ်စ်)လီမိတက် (L&Z MARINE PRODUCTS LIMITED)မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၁)၊ မြေကွက်အမှတ်-၂၀၃၊ ၂၀၆ ရှိ စုစုပေါင်းမြေဧရိယာ ၂. ၆၃၁ ဧက၊ (၁၀,၆၄၇. ၂၉ စတုရန်းမီတာ)ကို ငှားရမ်းကာ Contract Processing နှင့် Normal System စနစ်(၂)မျိုးဖြင့် ရေချို၊ ရေငန်ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၂၆. ၁. ၂၀၁၇) ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၆၃)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
အယ်(လ်)အန်(န်)ဇက် မရင်း(န်) ပရောဒက်(ထ်စ်)လီမိတက် (L&Z MARINE PRODUCTS LIMITED)
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/3.15

MIC 1 076 / 16/2

နောက်ဆက်တွဲ- ၈



npf.629 / 15.2.2017

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၃၀၀၀၀/ မွေးရေကျေး( ၁၆၁ /၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၄ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈-၁-၂၀၁၇) ရက်စွဲပါစာအမှတ်၊ မရက-၂/မ-၂၄၉/၂၀၁၇(၀၈၂)
(၂) ငါးလုပ်ငန်းဦးစီးဌာန၏ (၇-၂-၂၀၁၇)ရက်စွဲပါစာအမှတ်၊ ငလ/နပတ-၅/ ၂၀၁၇(၈၃၆)

၁။ အယ်(လ်)အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်)လီမိတက် (L & Z MARINE PRODUCTS LIMITED ) မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေကွက်အမှတ်-၂၀၃၊ ၂၀၆ ရှိ စုစုပေါင်းမြေဧရိယာ ၂.၆၃၀ ဧက၊ (၁၀,၆၄၇.၂၉ စတုရန်းမီတာ) ကိုငှားရမ်းကာ Contract Processing နှင့် Normal System စနစ် (၂)မျိုးဖြင့် ရေချိုနှင့် ရေငန် ငါး/ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ အဆိုပြုချက်ပါလုပ်ငန်းနှင့် စပ်လျဉ်း၍ L & Z MARINE PRODUCTS LIMITED ၏ အဆိုပြုတင်ပြချက်အား စိစစ်ပြီး တွေ့ရှိချက်များကို အောက်ပါအတိုင်း စိစစ်တင်ပြပါသည် -

**(က) Normal စနစ် ဆောင်ရွက်ရာတွင်ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးညီညွတ်မှုရှိ၊ မရှိ**

(၁) **Frozen Freshwater Fish ။** တစ်နှစ်လျှင် ပျှမ်းမျှကုန်ကြမ်း (765.80) တန်မှ Frozen Freshwater Fish (Gutted) ကုန်ချော (574.35) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (1.57) တန်ခန့် ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Freshwater Fish ပျှမ်းမျှ ကုန်ကြမ်း (727.50) တန်မှ Frozen Freshwater Fish (Fillet, Cutpieces) ကုန်ချော (218.10) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (0.59) တန်ခန့် ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Freshwater Fish ပျှမ်းမျှ ကုန်ကြမ်း(638.10)တန်မှ Frozen Freshwater Fish (Whole) ကုန်ချော

(631.80) တန်ခန့်ထွက်ရှိ မည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (1.73) တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပါသည်။

(၂) **Dry Freshwater Fish ။** တစ်နှစ်လျှင် ပျှမ်းမျှကုန်ကြမ်း (19.50) တန်မှ Dry Freshwater Fish (5.80) တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပါသည်။

(၃) **Frozen Seawater Fish ။** တစ်နှစ်လျှင်ပျှမ်းမျှကုန်ကြမ်း (675.30)တန်မှ Frozen Seawater Fish (Gutted) ကုန်ချော(623.60)တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (1.70) တန်ခန့်ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Seawater Fish ပျှမ်းမျှ ကုန်ကြမ်း (1322.60) တန်မှ Frozen Seawater Fish (Fillet, Cutpieces) ကုန်ချော (396.80) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (1.08) တန်ခန့် ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Seawater Fish ပျှမ်းမျှကုန်ကြမ်း (973.60) တန်မှ Frozen Seawater Fish (Whole) ကုန်ချော (963.60)တန်ခန့်ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင်ကုန်ချော (2.64) တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပါသည်။

(၄) **Dry Seawater Fish ။** တစ်နှစ်လျှင် ပျှမ်းမျှကုန်ကြမ်း (18.80) တန်မှ Dry Seawater Fish ကုန်ချော (5.60) တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပါသည်။

(၅) **Frozen Freshwater Shrimp။** တစ်နှစ်လျှင် ပျှမ်းမျှကုန်ကြမ်း (86.50) တန်မှ Frozen Freshwater Shrimp (HOSO) ကုန်ချော (85.80) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (0.23) တန်ခန့် ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Freshwater Shrimp ပျှမ်းမျှ ကုန်ကြမ်း (106.60) တန်မှ Frozen Freshwater Shrimp (HLSO)ကုန်ချော (69.10) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (0.18) တန်ခန့်ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Freshwater Shrimp ပျှမ်းမျှကုန်ကြမ်း (168.30) တန်မှ Frozen Freshwater Shrimp (PUD)ကုန်ချော (84.11) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (0.23) တန်ခန့်ထွက်ရှိနိုင်မည်ဖြစ်ပါသည်။

(၆) **Frozen Seawater Shrimp။** တစ်နှစ်လျှင် ပျှမ်းမျှကုန်ကြမ်း (62.00) တန်မှ Frozen Seawater Shrimp (HOSO) ကုန်ချော (62.00) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (0.16) တန်ခန့် ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Seawater Shrimp ပျှမ်းမျှ ကုန်ကြမ်း (101.50) တန်မှ Frozen Seawater Shrimp (HLSO)ကုန်ချော (65.83) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (0.18) တန်ခန့်ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Seawater Shrimp ပျှမ်းမျှကုန်ကြမ်း (100.00) တန်မှ Frozen Seawater Shrimp (PUD)ကုန်ချော (50.00) တန်ခန့်

ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (0.13) တန်ခန့်ထွက်ရှိနိုင်မည် ဖြစ်ပါသည်။

(ခ) **Contract Processing စနစ် ဆောင်ရွက်ရာတွင် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှုအချိုး ညီညွတ်မှုရှိ၊ မရှိ**

(၁) **Frozen Seawater Fish။** တစ်နှစ်လျှင် ပျှမ်းမျှကုန်ကြမ်း (1600.00) တန်မှ Frozen Seawater Fish (Gutted) ကုန်ချော (1280.00) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (3.50) တန်ခန့် ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Seawater Fish ပျှမ်းမျှ ကုန်ကြမ်း (1200.00) တန်မှ Frozen Seawater Fish (Fillet) ကုန်ချော (480.00) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (1.31) တန်ခန့်ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Seawater Fish ပျှမ်းမျှကုန်ကြမ်း (1200.00) တန်မှ Frozen Seawater Fish (Whole) ကုန်ချော (1176.00) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (3.22) တန်ခန့်ထွက်ရှိနိုင်မည် ဖြစ်ပါသည်။

(၂) **Frozen Seawater Shrimp။** တစ်နှစ်လျှင် ပျှမ်းမျှကုန်ကြမ်း (1008.30) တန်မှ Frozen Seawater Shrimp (HOSO) ကုန်ချော (1003.50) တန်ခန့်ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (2.75) တန်ခန့် ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Seawater Shrimp ပျှမ်းမျှ ကုန်ကြမ်း (1008.30) တန်မှ Frozen Seawater Shrimp (HLSO) ကုန်ချော (655.50) တန်ခန့်ထွက်ရှိ မည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (1.79) တန်ခန့်ထွက်ရှိပါမည်။ တစ်နှစ်လျှင် Frozen Seawater Shrimp ပျှမ်းမျှကုန်ကြမ်း (1008.30) တန်မှ Frozen Seawater Shrimp (PUD) ကုန်ချော (504.10) တန်ခန့် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော (1.38) တန်ခန့်ထွက်ရှိနိုင်မည်ဖြစ်ပါသည်။

(ဂ) **Normal စနစ်ဆောင်ရွက်ရာတွင်ဈေးနှုန်းဆိုင်ရာတွက်ချက်ကိုက်မှုရှိ၊ မရှိ**

(၁) **Frozen Freshwater Fish ။** ကုန်ချော (Gutted) တစ်တန်လျှင် အမေရိကန်ဒေါ်လာ (912.50) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (574.35) လျှင် အမေရိကန်ဒေါ်လာ (524094.37) ခန့်ကိုလည်းကောင်း၊ Frozen Freshwater Fish (Fillet, Cutpieces) တစ်တန်လျှင် အမေရိကန်ဒေါ်လာ (1163.33) ခန့်ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (218.10) လျှင် အမေရိကန်ဒေါ်လာ (253722.27) ခန့် ကိုလည်းကောင်း၊ Frozen Freshwater Fish (Whole) တစ်တန်လျှင် အမေရိကန်ဒေါ်လာ (622.50)ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင်

ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (631.80) လျှင် အမေရိကန်ဒေါ်လာ (393295.50) ခန့်ကိုလည်းကောင်း ရရှိမည်ဖြစ်ပါသည်။

(၂) **Dry Freshwater Fish** ။ ကုန်ချောတစ်တန်လျှင် အမေရိကန်ဒေါ်လာ (2566.66) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (5.80) လျှင် အမေရိကန် ဒေါ်လာ (14886.63) ခန့်ကိုလည်းကောင်း ရရှိနိုင်မည်ဖြစ်ပါသည်။

(၃) **Frozen Seawater Fish**။ ကုန်ချော (Gutted) တစ်တန်လျှင် အမေရိကန်ဒေါ်လာ(860.00) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (623.60) လျှင် အမေရိကန်ဒေါ်လာ (536296.00) ခန့်ကိုလည်းကောင်း၊ Frozen Seawater Fish (Fillet, Cutpieces) တစ်တန်လျှင် အမေရိကန်ဒေါ်လာ (927.50) ခန့်ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန်(396.80) လျှင် အမေရိကန်ဒေါ်လာ (368032.00) ခန့် ကိုလည်းကောင်း၊ Frozen Seawater Fish (Whole) တစ်တန်လျှင် အမေရိကန်ဒေါ်လာ (533.33) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (963.60) လျှင် အမေရိကန်ဒေါ်လာ (513916.79) ခန့်ကိုလည်းကောင်း ရရှိနိုင်မည်ဖြစ်ပါသည်။

(၄) **Dry Seawater Fish** ။ ကုန်ချော တစ်တန်လျှင် အမေရိကန်ဒေါ်လာ (2450.00) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (5.60) လျှင် အမေရိကန်ဒေါ်လာ (13720.00) ခန့်ကိုလည်းကောင်း ရရှိနိုင်မည်ဖြစ်ပါသည်။

(၅) **Frozen Freshwater Shrimp**။ ကုန်ချော (HOSO) တစ်တန်လျှင် အမေရိကန်ဒေါ်လာ(2766.66)ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချော တန် (85.80) လျှင် အမေရိကန် ဒေါ်လာ (237379.43) ခန့်ကိုလည်းကောင်း၊ Frozen Freshwater Shrimp (HLSO) တစ်တန်လျှင် အမေရိကန်ဒေါ်လာ (3250.00) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (69.10) လျှင် အမေရိကန်ဒေါ်လာ (224575.00) ခန့်ကိုလည်းကောင်း၊ Frozen Freshwater Shrimp (PUD) တစ်တန်လျှင် အမေရိကန်ဒေါ်လာ(2325.00) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (84.11) လျှင် အမေရိကန်ဒေါ်လာ (195555.75) ခန့်ကိုလည်းကောင်း ရရှိနိုင်မည်ဖြစ်ပါသည်။

(၆) **Frozen Seawater Shrimp**။ ကုန်ချော (HOSO) တစ်တန်လျှင် အမေရိကန်ဒေါ်လာ(2575.00)ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချော တန် (62.00) လျှင် အမေရိကန်ဒေါ်လာ (159650.00)

ခန့်ကိုလည်းကောင်း၊ Frozen Seawater Shrimp (HLSO) တစ်တန် လျှင်အမေရိကန်ဒေါ်လာ(2400.00) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန်(65.83) လျှင် အမေရိကန်ဒေါ်လာ (157992.00) ခန့် ကိုလည်းကောင်း၊ Frozen Seawater Shrimp (PUD) တစ်တန် လျှင် အမေရိကန်ဒေါ်လာ(1950.00) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (50.00) လျှင် အမေရိကန်ဒေါ်လာ (97500.00) ခန့် ရရှိနိုင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် L & Z MARINE PRODUCTS LIMITED ၏ ဖော်ပြထားသော အချက်အလက်များအရ ဈေးနှုန်းဆိုင်ရာ တွက်ချေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) **Contract Processingစနစ်ဆောင်ရွက်ရာတွင်ဈေးနှုန်းဆိုင်ရာ တွက်ချေကိုက်မှု ရှိ၊ မရှိ**

(၁) **Frozen Seawater Fish။** ကုန်ချော (Gutted) တစ်တန်လျှင် အမေရိကန်ဒေါ်လာ (523.33) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချော တန်(1280.00) လျှင် အမေရိကန်ဒေါ်လာ (669862.40) ခန့်ကိုလည်းကောင်း၊ Frozen Seawater Fish (Fillet) တစ်တန်လျှင် အမေရိကန်ဒေါ်လာ (588.33) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (480.00) လျှင် အမေရိကန်ဒေါ်လာ (282398.40) ခန့် ကိုလည်းကောင်း၊ Frozen Seawater Fish (Whole) တစ်တန်လျှင် အမေရိကန်ဒေါ်လာ(435.00) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန်(1176.00)လျှင် အမေရိကန်ဒေါ်လာ (511560.00) ခန့်ကိုလည်းကောင်း ရရှိနိုင်မည်ဖြစ်ပါသည်။

(၂) **Frozen Seawater Shrimp။** ကုန်ချော (HOSO) တစ်တန်လျှင် အမေရိကန်ဒေါ်လာ(562.50) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန်(1003.50) လျှင် အမေရိကန်ဒေါ်လာ (564468.75) ခန့်ကိုလည်းကောင်း၊ Frozen Seawater Shrimp (HLSO) တစ်တန် လျှင် အမေရိကန်ဒေါ်လာ(608.33) ခန့်ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (655.50)လျှင် အမေရိကန်ဒေါ်လာ (398760.31) ခန့် ကိုလည်းကောင်း၊ Frozen Seawater Shrimp (PUD) တစ်တန် လျှင် အမေရိကန်ဒေါ်လာ(632.50) ခန့် ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (504.10) လျှင် အမေရိကန်ဒေါ်လာ (318843.25) ခန့် ရရှိနိုင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် L & Z MARINE PRODUCTS LIMITED ၏ ဖော်ပြထားသော အချက်အလက်များအရ ဈေးနှုန်းဆိုင်ရာ တွက်ချေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) **နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အားအချိုးအစား ညီမျှမှုရှိ၊ မရှိ**

(၁) စက်ရုံတွင်တပ်ဆင်ထားသည့်ကုန်ချောထုတ်လုပ်ရန်စက်များ၏ Capacity မှာ ငါး/ပုစွန်ပြုပြင်ထုတ်လုပ်ရန်အတွက် Contact Freezer (Plate Freezer) (1 MT × 2Nos) , Air Blast Freezer (5 MT x 4 Nos) နှင့် Coldstore (300 MT × 2Nos, 500 x 1 No) တပ်ဆင်ထားကြောင်း သိရှိရပါသည်။

(၂) စက်၏ Capacity အရ အနည်းဆုံးတစ်နေ့ ရေထွက်ပစ္စည်း (၂၂) တန် ထုတ်လုပ်နိုင်ကြောင်းသိရှိရပါသည်။ အဆိုပါစက်များ ကိုင်တွယ်မောင်းနှင်ရန်အတွက် အင်ဂျင်နီယာ (၃) ဦး၊ ရုံးဝန်ထမ်း (၂၄) ဦးနှင့် ကုန်ကြမ်း၊ ကုန်ချောများ ပြုပြင်ဆောင်ရွက်နိုင်ရန်အတွက် ဝန်ထမ်း စုစုပေါင်း (၂၂၈) ဦး၊ စုစုပေါင်း (၂၅၅) ဦးဖြင့် ဆောင်ရွက်လျက်ရှိကြောင်း စိစစ်တွေ့ရှိရပါသဖြင့် ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှုရှိကြောင်း စိစစ်တွေ့ ရှိရပါသည်။

(စ) **အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ စီးပွားရေးတွက်ချေကိုက်မှုရှိ၊မရှိ။** အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ စီးပွားရေး တွက်ချေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိချက်များအရ သိရှိရပါသည်။ ထို့အပြင် အဆိုပြုလွှာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ရေဆိုးများကို သန့်စင်သောစနစ်၊ အနံ့ဆိုးများကို သန့်စင်သောစနစ်၊ မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ်များ တွေ့ရှိရပါသည်။

၃။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန ၊ ငါးလုပ်ငန်းဦးစီးဌာနအနေဖြင့် ပြည်ပပို့ကုန်ရေထွက်ပစ္စည်းများနှင့် လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများ၏ အရည်အသွေးနှင့် စားသုံးသူများ ဘေးအန္တရာယ်ကင်းရှင်းစေရေး အဓိကထား၍ စစ်ဆေးဆောင်ရွက်ပေးခြင်းဖြစ်ပါသည်။ လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ပြီး ပြန်လည်တင်ပို့ရာတွင် ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသောလုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက L & Z MARINE PRODUCTS LIMITED ၏ လက်ခစားအပ်ကုန်စနစ်ဖြင့် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ရန် အဆိုပြုချက်အား ကန့်ကွက်ရန်မရှိပါကြောင်း ငါးလုပ်ငန်းဦးစီးဌာနမှ ရည်ညွှန်းချက်(၂)ပါစာဖြင့် စိစစ်တင်ပြလာပါသည်။

၄။ သို့ဖြစ်ပါ၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ပြီး ပြန်လည်တင်ပို့ရာတွင် ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသော လုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက L & Z MARINE PRODUCTS LIMITED ၏ လက်ခစားအပ်ကုန်စနစ်ဖြင့်

ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်အား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန

(၂) L & Z MARINE PRODUCTS LIMITED

(၃) ရုံးလက်ခံ

(၄) မျှော




MICL 041 / 30/1

**နောက်ဆက်တွဲ- ဂ**

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝ၁၁/ MIC(OSS) /ဝ၁(၃၉ / ၁၇)
ရက် စွဲ ၊ ၂ဝ၁၇ ခုနှစ် ဇန်နဝါရီလ ၃ဝ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **L & Z Marine Products Limited မှ Contract Processing နှင့် Normal System စနစ် (၂) မျိုးဖြင့် ရေချို၊ ရေငန် ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၃-၁-၂ဝ၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ မ- ၂၄၉/ ၂ဝ၁၇(ဝ၆၈)

၁။ အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်) လီမိတက် (L & Z Marine Products Limited) မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်- ၁၊ မြေကွက်အမှတ်- ၂ဝ၃၊ ၂ဝ၆ ရှိ စုစုပေါင်းမြေဧရိယာ ၂.၆၃၁ ဧက (၁ဝ,၃၄၇.၂၉ စတုရန်းမီတာ) ကို ငှားရမ်းကာ Contract Processing နှင့် Normal System စနစ် (၂) မျိုးဖြင့် ရေချို၊ ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ (၅ဝ) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁ဝ) နှစ် (၂) ကြိမ် ဆောင်ရွက်မည်ဖြစ်ကာ လုပ်ငန်းတည်ဆောက်မည့်ကာလမှာ (၂) နှစ်ခန့် ဖြစ်ကြောင်း၊

(ခ) လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဃ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းများကို ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ပြီး ကုန်ပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်များကို Waste Water Treatment Plant ဖြင့်သန့်စင်ပြီးမှ စွန့်ပစ်မည်ဖြစ်ကာ ပတ်ဝန်းကျင်စိမ်းလန်း စိုပြည်ရေးနှင့် လေ

ကောင်းလေသန့်ရရှိရေး အစီအမံများကို ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) L & Z Marine Products Limited. မှ တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် ထွက်ရှိလာမည့် ဖုန်မှုန့်နှင့် မြေသား အမှုန်၊ အမွှားများကြောင့် ပတ်ဝန်းကျင်လေထု ညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) လုပ်ငန်းများလည်ပတ်ဆောင်ရွက်ပါက အအေးခန်းများမှထွက်ရှိလာမည့် ငါး၊ ပုစွန် အစအနများ၊ စွန့်ပစ်ရေဆိုးများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု ညစ်ညမ်းခြင်းနှင့် ပတ်ဝန်းကျင်တွင်နေထိုင်သော ပြည်သူလူထုကို အနှောင့်အယှက်ဖြစ်စေခြင်း၊

(ဃ) အအေးခန်း သိုလှောင်ရုံများတွင် အသုံးပြုမည့် လေအေးပေးစက်များနှင့် ရေခဲစက်များမှ ထွက်ရှိလာမည့် Green House Gas-GHG များကြောင့် ကမ္ဘာ့ကြီးအပူချိန်မြင့်မားမှုနှင့် အိုဇုန်းလွှာ ထိခိုက်ပျက်စီးမှုစသည့် ပတ်ဝန်းကျင်ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ L & Z Marine Products Limited. မှ Contract Processing နှင့် Normal System စနစ် (၂) မျိုးဖြင့် ရေချို၊ ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း** (Initial

**Environmental Examination - IEE)** ကို ဆောင်ရွက်ပြီးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်း ဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ် ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး

ရုံးလက်ခံ

MIC 1 ၁၅၆/၉/၉





## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၂၈၅၂)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈.၁.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၂/ မ-၂၄၉ / ၂၀၁၇(၀၈၁)

၁။ အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်)လီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေကွက်အမှတ်(၂၀၃၊ ၂၀၆)တွင် Contract Processing နှင့် Normal System စနစ်(၂)မျိုးဖြင့် ရေချို၊ ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်။

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဂ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်းမြောင်းဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန၏ ရေထွက်ပစ္စည်းဝယ်ယူစုဆောင်းခွင့်လိုင်စင်၊ ရေထွက်ပစ္စည်းပြုပြင်ထုတ်လုပ်ခွင့်လိုင်စင်၊ ငါး/ပုစွန်ပြုပြင်စက်ရုံလိုင်စင်(Cold Store) လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ အယ်(လ်) အင်(န်) ဇက် မရင်း(န်) ပရောဒတ်(ထ်စ်)လီမိတက်မှ Contract Processing နှင့် Normal System စနစ်(၂)မျိုးဖြင့် ရေချို၊ ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်း

လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( သန်းသန်းလွင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
- ရုံးလက်ခံ